**Jade King & Queen Gems & Jewellery Co.,Ltd**

**Cash Flow Statement Showing Working Capital Requirement (Kyat in Million)**

**Exhibit No.X**

| Sr. No. | Particulars | Year 1 | Year 2 | Year 3 | Year 4 | Year 5 | Year 6 | Year 7 | Year 8 | Year 9 | Year 10 | Year 11 |
|---|---|---|---|---|---|---|---|---|---|---|---|---|
| 1 | **Cash InFlow** | | | | | | | | | | | |
| 1 | Equity Capital | 919 | | | | | | | | | | |
| 2 | Profit after Tax | -50 | -50 | -38 | -25 | -17 | 1 | 1 | 1 | 119 | 205 | 205 |
| 3 | Depreciation | 22 | 22 | 22 | 22 | 22 | 22 | 22 | 22 | 22 | 22 | 22 |
| | **Total** | **891** | **-28** | **-16** | **-3** | **5** | **23** | **23** | **23** | **141** | **227** | **227** |
| 2 | **Cash Outflow** | | | | | | | | | | | |
| 1 | Machineries & Equipment | 443 | | | | | | | | | | |
| | **Total** | **443** | | | | | | | | | | |
| | **Net Cash Inflow (1-2)** | **448** | **-28** | **-16** | **-3** | **5** | **23** | **23** | **23** | **141** | **227** | **227** |
| | **Opening Balance** | | **448** | **420** | **404** | **401** | **406** | **429** | **452** | **475** | **616** | **843** |
| | **Closing Balance** | **448** | **420** | **404** | **401** | **406** | **429** | **452** | **475** | **616** | **843** | **1070** |

**Jade King & Queen Gems & Jewellery Co.,Ltd**

**Cash Flow Statement Showing Working Capital Requirement (Kyat in Million)**

**Exhibit No.X Concld;**

| Sr. No. | Particulars | Year 12 | Year 13 | Year 14 | Year 15 | Year 16 | Year 17 | Year 18 | Year 19 | Year 20 | Year21 | Year 22-25 |
|---|---|---|---|---|---|---|---|---|---|---|---|---|
| 1 | **Cash InFlow** | | | | | | | | | | | |
| 1 | Equity Capital | | | | | | | | | | | |
| 2 | Profit after Tax | 205 | 205 | 205 | 205 | 205 | 205 | 205 | 205 | 205 | 205 | 205 |
| 3 | Depreciation | 22 | 22 | 22 | 22 | 22 | 22 | 22 | 22 | 22 | | |
| | **Total** | **227** | **227** | **227** | **227** | **227** | **227** | **227** | **227** | **227** | **205** | **205** |
| 2 | **Cash Outflow** | | | | | | | | | | | |
| 1 | Machineries & Equipment | | | | | | | | | | | |
| | **Total** | | | | | | | | | | | |
| | **Net Cash Inflow (1-2)** | **227** | **227** | **227** | **227** | **227** | **227** | **227** | **227** | **227** | **205** | **205** |
| | **Opening Balance** | **1070** | **1297** | **1524** | **1751** | **1978** | **2205** | **2432** | **2659** | **2886** | **3113** | **3318** |
| | **Closing Balance** | **1297** | **1524** | **1751** | **1978** | **2205** | **2432** | **2659** | **2886** | **3113** | **3318** | **3523** |

**Jade King & Queen Gems & Jewellery Co.,Ltd**
**Internal Rate of Return**

**Exhibit No.XI**

| Year | Net Cashflow (Kyat in million) | Discounted Cash Flow | | Discounted Cash Flow | |
|---|---|---|---|---|---|
| | | DF 5% | Net Present Worth | DF 10% | Net Present Worth |
| 1 | -947 | 0.952 | -902 | 0.909 | -861 |
| 2 | -28 | 0.907 | -25 | 0.826 | -23 |
| 3 | -16 | 0.864 | -14 | 0.751 | -12 |
| 4 | -3 | 0.823 | -2 | 0.683 | -2 |
| 5 | 5 | 0.784 | 4 | 0.621 | 3 |
| 6 | 23 | 0.746 | 17 | 0.564 | 13 |
| 7 | 23 | 0.711 | 16 | 0.513 | 12 |
| 8 | 23 | 0.677 | 16 | 0.467 | 11 |
| 9 | 141 | 0.645 | 91 | 0.424 | 60 |
| 10 | 227 | 0.614 | 139 | 0.386 | 88 |
| 11 | 227 | 0.585 | 133 | 0.350 | 79 |
| 12 | 227 | 0.557 | 126 | 0.319 | 72 |
| 13 | 227 | 0.530 | 120 | 0.290 | 66 |
| 14 | 227 | 0.505 | 115 | 0.263 | 60 |
| 15 | 227 | 0.481 | 109 | 0.239 | 54 |
| 16 | 227 | 0.458 | 104 | 0.218 | 49 |
| 17 | 227 | 0.436 | 99 | 0.198 | 45 |
| 18 | 227 | 0.416 | 94 | 0.180 | 41 |
| 19 | 227 | 0.396 | 90 | 0.164 | 37 |
| 20 | 227 | 0.377 | 86 | 0.149 | 34 |
| 21 | 205 | 0.359 | 74 | 0.135 | 28 |
| 22 | 205 | 0.342 | 70 | 0.123 | 25 |
| 23 | 205 | 0.326 | 67 | 0.112 | 23 |
| 24 | 205 | 0.310 | 64 | 0.102 | 21 |
| 25 | 205 | 0.295 | 60 | 0.092 | 19 |
| | **Total** | | **751** | | **-58** |

**Internal Rate of Return** = 5 + 5 (751/809)
= 5 + 4.6 = 9.6%

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

## ပြည်ထောင်စုရှေ့နေချုပ်ရုံး

## နေပြည်တော်

စာအမှတ်၊၂(၅)၁၄ -၁၉၉ /နပတ(၁၂၅)

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ၁၆ ရက်

အကြောင်းအရာ။ ရာဘာခြံများ အကျိုးတူခွဲဝေခံစားသည့် စာချုပ်(မူကြမ်း) များအပေါ် သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ

ရည် ညွှန်း ချက်။ စက်မှုဝန်ကြီးဌာန၏ ၈-၁၂-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ၂၃-စမ (၂) ၂၀၁၅-၂၀၁၆ ( ၃၀၄၂ )

၁။ စက်မှုဝန်ကြီးဌာန၊ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း၊ အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာန ကြီးကြပ်မှုရှိ ရာဘာခြံများအား ပုဂ္ဂလိကနှင့် အကျိုးတူဆောင်ရွက်ရာတွင် ပုဂ္ဂလိကလုပ်ငန်းရှင် ဒေါ်နန်းခင်မြင့်ရီမှ ညောင်ချောင်းရာဘာခြံအားလည်းကောင်း၊ ပုဂ္ဂလိကလုပ်ငန်းရှင် ဦးဖုန်းမြင့်မှ ပေါင်ကျုံကရာဘာခြံအားလည်းကောင်း တင်ဒါအောင်မြင်ခဲ့၍ ချုပ်ဆိုမည့် ရာဘာခြံစိုက်ပျိုးမှုအပေါ်ခွဲဝေခံစားသည့် စာချုပ်(မူကြမ်း)များအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် မေတ္တာရပ်ခံလာသောကိစ္စဖြစ်ပါသည်။

၂။ ရည်ညွှန်းချက်ပါစာဖြင့် ပူးတွဲပေးပို့လာသော စာချုပ်(မူကြမ်း) ၂ ရပ်သည် လုပ်ကွက်တည်နေရာနှင့် စာချုပ်ဝင်များကွဲပြားသော်လည်း စာချုပ်ဖုံစံတစ်မျိုးတည်းရေးသားပြုစုချုပ်ဆိုထားသဖြင့် တစ်ပေါင်းတည်းစိစစ်အကြံပြုအပ်ပါသည်။

၃။ ရည်ညွှန်းချက်ပါစာဖြင့် ပူးတွဲပေးပို့လာသော စာချုပ်(မူကြမ်း)များအား ဥပဒေ ရှုထောင့်မှ လေ့လာစိစစ်၍ အောက်ပါအတိုင်း သုံးသပ်အကြံပြုအပ်ပါသည် -

(က) စာချုပ်(မူကြမ်း)များ အပိုဒ် ၃ တွင် “ရာဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ပြုသော မြေ

နှင့်ရှိသောအား ပူးတွဲမြေပုံပါအတိုင်း” ဟုဖော်ပြထားပါသည်။ စိုက်ပျိုးလုပ်ကိုင်ခွင့်ပြုမည့် မြေနေရာအားရေးဆွဲထားသည့် မြေပုံနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာဌာနမှ တရားဝင်ရေးဆွဲထားသော မြေပုံဖြစ်ရန် လိုအပ်ပါသည်၊

(ခ) စာချုပ်(မူကြမ်း)များ အပိုဒ် ၈(ဂ)တွင် ရော်ဘာစိုက်ပျိုးလုပ်ကိုင်ရန် ကနဦးသက်တမ်းနှင့် သက်တမ်းတိုးမြှင့်ခြင်းအား ဖော်ပြထားသည်ကိုတွေ့ရှိရသောကြောင့် ယင်းစည်းကမ်းချက်များအား အပိုဒ် ၄ ရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ပြုသောကာလတွင် ဖော်ပြထားပြီးဖြစ်သဖြင့် စာချုပ်ပါစည်းကမ်းချက်များ မထပ်စေရေးအတွက် ဌာနမှ တာဝန်ယူစိစစ်ရန် လိုအပ်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း)များအပိုဒ် ၉(ဂ)တွင် “စိုက်ပျိုးလုပ်ကိုင်ခွင့်ပြုသောမြေဧရိယာပေါ်တွင် နိုင်ငံတော်ပိုင်စီမံကိန်းဝင်အပင်များကို-------ဈေးနှုန်းအတိုင်းပြန်လည်ပေးလျော်ရမည်” ဟုဖော်ပြထားပါသည်။ ယင်းစည်းကမ်းချက်ပါ နိုင်ငံတော်ပိုင်စီမံကိန်းဝင်အပင်များဆိုရာ၌ မည်သည့်အပင်များပါဝင်ကြောင်း နောင်အငြင်းပွားမှုမဖြစ်စေရေးအတွက် ရှင်းလင်းစွာဖော်ပြရန်လိုအပ်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း)များအပိုဒ် ၉(ဈ)တွင် “စိုက်ပျိုးလုပ်ကိုင်ခွင့်ပြုသောမြေဧရိယာရှိ သတ္တုကျောက်၊ မြေ၊ သဲနှင့် သဘာဝသယံဇာတများသည် နိုင်ငံပိုင်ဖြစ်၍ တူးဖော်ထုတ်လုပ်ခြင်းမပြုရ” ဟု ဖော်ပြထားရာ ယင်းစည်းကမ်းချက်အား အပိုဒ် ၂၁ သယံဇာတပစ္စည်းဆိုင်ရာကိစ္စ၌ ဖော်ပြထားပြီးဖြစ်သဖြင့် စာချုပ်ပါစည်းကမ်းချက်များမထပ်စေရေးအတွက် ဌာနမှတာဝန်ယူ စိစစ်ရန်လိုအပ်ပါသည်၊

(င) စာချုပ်(မူကြမ်း)များအပိုဒ် ၂၆ တွင် “လုပ်ငန်းလုပ်ကိုင်ခြင်း၊ ငွေပေးသွင်း------- နောက်ဆက်တွဲစာချုပ်ရေးထိုး ခြင်းအတွက် ပြုလုပ်သည့်မှတ်တမ်းများ-------- ဤစာချုပ်၏နောက်ဆက်တွဲ အစိတ်အပိုင်းဖြစ်သည်ဟု မှတ်ယူရမည်”

ဖော်ပြထားသော်လည်း ဤစာချုပ်(မူကြမ်း)၌ ပူးတွဲပါရှိလာခြင်းမရှိပါ။ နောက်ဆက်တွဲများသည် စာချုပ်၏အရေးကြီးသော အစိတ်အပိုင်းဖြစ်သဖြင့် စာချုပ်ချုပ်ဆိုချိန်တွင် နောက်ဆက်တွဲများအား ပြည့်စုံစွာပူးတွဲထားရှိရန် လိုအပ်ပါသည်၊

(စ) စာချုပ်(မူကြမ်း)များအပိုဒ် ၂၉၊ ၃၀ နှင့် ၃၁ တို့တွင် အာမခံပစ္စည်း (သို့မဟုတ်) ခိုင်မာသောစာချုပ်စာတမ်း/ ဂရန်တို့ကို အာမခံအဖြစ် မြန်မာ့စီးပွားရေးဘဏ် တစ်ခုခုတွင်ထားရှိရမည်ဖြစ်ကြောင်း ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ အဆိုပါစည်းကမ်းချက်များနှင့် စပ်လျဉ်း၍ အပိုဒ် ၉(က) ပါ စည်းကမ်းချက်၊ အပိုဒ် ၂၈ ပါ အာမခံကြေးနှင့် စပ်လျဉ်းသည့် စည်းကမ်းချက်များညီညွတ်မှုရှိစေရန်၊ မလိုလားအပ်သောကိစ္စရပ်များရှုပ်ထွေးမှုများ မဖြစ်ပေါ်စေရန်အတွက် လုပ်ငန်းအာမခံကြေးအား ငွေသားဖြင့်သာရယူသင့်ပါသည်၊

(ဆ) စာချုပ်(မူကြမ်း)များတွင် စိုက်ပျိုးလုပ်ကိုင်ခွင့်ပြုသောကာလပါရှိသော်လည်း စာချုပ်၏အရေးကြီးသော ဥပဒေရေးရာစာပိုဒ်ဖြစ်သည့် စာချုပ်သက်တမ်းမပါရှိသဖြင့် ထည့်သွင်းဖော်ပြရန်လိုအပ်ပါသည်။ ဌာနမှပြန်လည်စိစစ်သင့်ပါသည်၊

(ဇ) စာချုပ်(မူကြမ်း)များတွင်ပါရှိသောကွက်လပ်များကို စာချုပ်ချုပ်ဆိုသည့်အချိန်တွင် ပြည့်စုံစွာဖြည့်စွက်ပြီးဖြစ်ရန်လိုအပ်ပါသည်၊

(ဈ) လိုအပ်သောနေရာများတွင် မင်နီဖြင့် ပြင်ဆင်ပေးလိုက်ပါသည်။

၄။ ဤစာချုပ်(မူကြမ်း)ကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြောင်းအရသာ ဥပဒေအကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကိုဤရုံးအနေဖြင့် မှတ်ချက်ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စရပ်များနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန် အကြံပြုပါသည်။

၅။ စာချုပ်ချုပ်ဆိုမည့်ပုဂ္ဂိုလ်များသည် စာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်နိုင်စွမ်းနှင့် လုပ်ကိုင်နိုင်ခွင့် ရှိ မရှိ၊ ငွေကြေးအင်အားပြည့်စုံမှု ရှိ မရှိ၊ စာချုပ်ချုပ်ဆိုခွင့် ရှိ မရှိ စသည့်အချက်များနှင့် စပ်လျဉ်း၍ ကြိုတင်စိစစ်ရန်လိုအပ်မည်ဖြစ်ပါသည်

၆။ ဤစာချုပ်(မူကြမ်း)များကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားရှိနိုင်ရန် အတွက် ဤရုံးသို့ စာချုပ်(မိတ္တူ)(၃)စောင်ပေးပို့ပါ ရန် မေတ္တာရပ်ခံအပ်ပါသည်။

၇။ ဤအကြံပြုချက်ကို လျှို့ဝှက်အဆင့်သတ်မှတ်ဆောင်ရွက်ရန်ဖြစ်ပါသည်။

16/12/2015

ညွှန်ကြားရေးမှူးချုပ်(တာဝန်)(ကိုယ်စား)

(ဒေါက်တာသီတာဦး၊ဒုတိယညွှန်ကြားရေးမှူးချုပ်)

**ဆက်မှုဝန်ကြီးဌာန**

မိတ္တူ - ရုံးလက်ခံ / မျှောစာတွဲ



Azer/DSSW/Daw Nan Khin Myint Yee (14-12-2015)

**စက်မှုဝန်ကြီးဌာန**

**အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း**

**အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာန(ကျိုက်ထို) နှင့်**

**ရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ရသူတို့၏ နှစ်ဦးနှစ်ဖက် အကျိုးတူ**

**ရော်ဘာစိုက်ပျိုးထုတ်လုပ်မှုအပေါ်ခွဲဝေခံစားသည့်စာချုပ်(မူကြမ်း)**

ဤစာချုပ်ကို မွန်ပြည်နယ်၊ ကျိုက်ထိုမြို့နယ်၊ အမှတ်(၂၇) စက်မှုကုန်ကြမ်းဌာန၊ အထွေထွေမန်နေဂျာရုံးတွင်၂၀၁၆ ခုနှစ် လ ရက်နေ့၌ ဦးခင်မောင်မြင့်၊ ခေတ္တအထွေထွေမန်နေဂျာ ကိုယ်စားပြုသော အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာန၊ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း၊ စက်မှုဝန်ကြီးဌာန(နောင်တွင်"**အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာန**"ဟုခေါ်တွင်မည်ဖြစ်ပြီး၊ ယင်းစကားရပ်တွင် ယင်း၏ဆက်ခံသူများ၊ ဥပဒေနှင့်အညီ လွှဲအပ်ခြင်းခံရသူများပါဝင်သည်)က တစ်ဖက်

နှင့်

ဒေါ်နန်းခင်မြင့်ရီ၊နိုင်ငံသားစိစစ်ရေးကတ်ပြားအမှတ်၊၁၃/ကမရ(နိုင်)၀၀၁၀၈၃၊ဒါရိုက်တာ ကိုယ်စားပြုသော အမှတ်(၅၃/၅၄)၊ စက်ဆရာဦးထွန်းလမ်း၊ ရွှေပြည်သာစက်မှုဇုန်အပိုင်း(၄)၊ အင်းစိန်မြို့နယ်၊ ရန်ကုန်မြို့တွင် ရုံးခန်းဖွင့်လှစ်ထားသည့် Jade King & Queen Gems & Jewellery Co.,Ltd. (နောင်တွင်"**ရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ရသူ**"ဟုခေါ်တွင်မည်ဖြစ်ပြီး ယင်းစကားရပ်တွင် ယင်းအားဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များ ၊ ဥပဒေနှင့်အညီလွှဲအပ်ခြင်းခံရသူများပါဝင်သည်)က အခြားတစ်ဖက်တို့သည် တစ်ဖက်စာမျက်နှာပါသဘောတူညီချက်များနှင့်အညီ ရော်ဘာစိုက်ပျိုးထုတ်လုပ်မှုအပေါ် ခွဲဝေခံစားရန် သဘောတူချုပ်ဆိုကြပါသည်-

**ရည်ရွယ်ချက်**

၁။ **"အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာန"**ပိုင်ဆိုင်သော ရော်ဘာစိုက်ပျိုးဧရိယာများကို **"ရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ရသူ"**က **အစေးလှီးလုပ်ငန်း၊ ထိန်းသိမ်းလုပ်ငန်း ၊ ပြန်စိုက်လုပ်ငန်းများ**တွင် အကျိုးတူပူးပေါင်းဆောင်ရွက်ရန် ရည်ရွယ်၍ ဤစာချုပ် ကို လက်မှတ်ရေးထိုးခြင်းဖြစ်သည်။

**အာမခံခြင်းနှင့်ကိုယ်စားပြုခြင်း**

၂။ **"အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာန"**သည် အကျိုးတူပူးပေါင်း၍ စိုက်ပျိုးလုပ်ကိုင်ခွင့်ပြုသော မြေဧရိယာများကို တရားဝင်ပိုင်ဆိုင်သူဖြစ်ပြီး **"ရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ရသူ"**သည် စာချုပ်ရည်ရွယ်ချက်ပါလုပ်ငန်းများကို အကောင်အထည်ဖော်ဆောင်ရွက်ရန် အင်အားခိုင်မာငွေကြေးပြည့်စုံပြီး စာချုပ်ပါလုပ်ငန်းများကို လုပ်ကိုင်ခွင့်ရှိသူ၊ လုပ်ကိုင်နိုင်သူဖြစ်ပါသည်။ စာချုပ်တွင်လက်မှတ်ရေးထိုးသူ နှစ်ဦးနှစ်ဖက်လုံးသည် ဤစာချုပ်တွင် လက်မှတ်ရေးထိုးရန် အခွင့်အာဏာလုပ်ပိုင်ခွင့်နှင့် ပြည့်စုံသူများဖြစ်ကြောင်းကို အသီးသီးအာမခံကြပါသည်။

**အကျိုးတူပူးပေါင်း၍ စိုက်ပျိုးလုပ်ကိုင်ခွင့်ပြုသောဧရိယာ**

၃။ အကျိုးတူပူးပေါင်း၍ ရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ပြုသော မြေနှင့်ဧရိယာမှာ ပူးတွဲမြေပုံပါ မွန်ပြည်နယ်၊သထုံမြို့နယ်၊ ညောင်ချောင်းရာဘာခြံ၊ ကွင်းအမှတ် (၆၇၇၊၆၇၉၊၉၈၀(က)(ခ)(ဂ)(ဃ) အကွက်အမှတ် - စခန်းကြီးကျေးရွာအုပ်စု ၊ အနန်းပင်ကျေးရွာအုပ်စု ဧရိယာ ၁,၅၀၅.၆၁ ဧက ဖြစ်ပါသည်။

**စာချုပ်သက်တမ်း**

၄။ စာချုပ်သက်တမ်းမှာ ဤစာချုပ် အသက်ဝင်သောနေ့ ၂၀၁၆ ခုနှစ် လ ရက်နေ့မှစ၍ ၂၀၄၁ ခုနှစ် လ ရက်နေ့အထိ ၂၅ နှစ် ဖြစ်သည်။

**သက်တမ်းတိုးခြင်း**

၅။ (က) ကနဦး လုပ်ကိုင်သည့်ကာလ ၂၅ နှစ် ပြည့်ပြီးနောက် ထပ်မံသက်တမ်းတိုးလိုပါက **"ရော်ဘာစိုက်ပျိုးလုပ် ကိုင်ခွင့်ရသူ"**က သက်တမ်းမကုန်ဆုံးမီ ၆ လကြိုတင်၍စာဖြင့် တင်ပြရမည်။

(ခ) နှစ်ဦးနှစ်ဖက်ညှိနှိုင်းချက်အရ တစ်ကြိမ်လျှင် ၅ နှစ် စီဖြင့် ၂ ကြိမ် သက်တမ်းတိုး စာချုပ်ချုပ်ဆိုနိုင်မည်ဖြစ်သည်။

(ဂ) သတ်မှတ်ကာလပြည့်သည့်နေ့တွင် အကျိုးတူပူးပေါင်း၍ စိုက်ပျိုးလုပ်ကိုင်ခွင့်ပြုသည့် မြေဧရိယာနှင့် အကျိုးတူလုပ်ကိုင်ခွင့်ကို အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာနက ပြန်လည် ရယူလုပ်ကိုင်မည်ဖြစ်သည်။

**အကျိုးတူပူးပေါင်း၍ စိုက်ပျိုးလုပ်ကိုင်မည့်အစီအစဉ်သတ်မှတ်ခြင်း**

၆။ စာချုပ်လက်မှတ်ရေးထိုးသည့်နှစ်ဦးနှစ်ဖက်သည် အောက်ပါအချက်များပေါ်အခြေခံ၍ ရေးထိုး ကြခြင်းဖြစ်သည်-

(က) **အစေးလှီးလုပ်ငန်း**

(၁) **"အမှတ် (၂၇) စက်မှုကုန်ကြမ်းဌာန"**က စိုက်ပျိုးထားရှိသည့် ရော်ဘာအစေးလှီး **၆၀ ဧက ၊ ၄,၀၁၉ ပင်**အား ရင်းနှီးမြှုပ်နှံမှုအဖြစ်ထည့်ဝင်မည်။

(၂) **"ရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ရသူ "က** ခြံဝန်ထမ်း လုပ်ခလစာ ၊ အစေးလှီးလုပ်ခ များအပါအဝင်ထုတ်လုပ်မှုကုန်ကျစရိတ်အားလုံးအတွက်ကျခံ၍ ရင်းနှီးမြှုပ်နှံမှုအဖြစ် ထည့်ဝင်မည်။

(၃) ထွက်ရှိလာသောရော်ဘာ (မှိုင်းခံရော်ဘာ/ခရမ့်ရော်ဘာ/Cream)များကို သဘောတူ ထားသောအချိုးဖြစ်သည့် **"အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာန"**က ၅၀ % နှင့် **"ရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ရသူ"** က ၅၀ % ဖြင့် ခွဲဝေခံစားကြရမည်။

(၄) အစေးလှီးလုပ်ငန်းတွင် ညောင်ချောင်းရာဘာခြံအတွက် လျာထား ၅,၇၆၀ပေါင်အား ထုတ်လုပ်ရမည့်ပေါင်အဖြစ် သတ်မှတ်မည်။

(၅) နှစ်စဉ်လျာထားချက်အား ပြန်လည်သုံးသပ်အတည်ပြုမည်။

(၆) နောင်နှစ်အတွက် လျာထားချက်အား ခြံကြီးကြပ်ရေးအဖွဲ့က နှစ်စဉ်ဖေဖော်ဝါရီ လဆန်းတွင်တင်ပြ၍ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း၊ ဗဟိုလုပ်ငန်းကြီးကြပ်မှု ကော်မတီက စိစစ်အတည်ပြုပြီး မတ်လအတွင်း လျာထားချက်ထုတ်ပြန်၍ သဘောတူလက်မှတ်ရေးထိုးဆောင်ရွက်မည်။

(၇) အစေးလှီးပင်များအား ခုတ်လှဲပြန်စိုက်ရန်လိုအပ်ပါက ခြံလုပ်ငန်းကြီးကြပ်ရေးအဖွဲ့က ပဏာမစစ်ဆေးပြီး လုပ်ငန်းကော်မတီအဆင့်ဆင့်သို့တင်ပြ၍ အမှတ်(၂)အကြီးစား စက်မှုလုပ်ငန်း၊ ဗဟိုလုပ်ငန်းကြီးကြပ်မှုကော်မတီက စစ်ဆေးအတည်ပြုဆောင် ရွက်မည်။

(၈) စားကျက်မြေဧရိယာတွင်ပါဝင်နေသော အစေးလှီးဧရိယာများကို လုပ်ငန်းဆက်လက် ဆောင်ရွက်နိုင်သော်လည်း မိမိသဘောဆန္ဒဖြင့် ခုတ်လှဲခြင်း၊ ပြန်စိုက်ခြင်းလုပ်ငန်းများ ဆောင်ရွက်ခွင့်မပြုပါ။

(ခ) **ထိန်းသိမ်းလုပ်ငန်း**

(၁) **"အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာန"** က ညောင်ချောင်းရော်ဘာခြံတွင် စိုက်ပျိုး ထားရှိသည့် ရော်ဘာ **၂၆၀ ဧက** နှင့် **၅၁,၆၂၇ ပင်**အား ရင်းနှီးမြှုပ်နှံမှုအဖြစ် ထည့်ဝင်မည်။

| | | | |
|---|---|---|---|
| ၂၀၁၃-၂၀၁၄ ခုနှစ်စိုက်၊ | ၂ နှစ်သား | ၅၇ ဧက | ၁၂,၀၀၀ ပင် |
| ၂၀၁၂-၂၀၁၃ ခုနှစ်စိုက်၊ | ၃ နှစ်သား | ၄၃ ဧက | ၇,၆၈၂ ပင် |
| ၂၀၁၁-၂၀၁၂ ခုနှစ်စိုက်၊ | ၄ နှစ်သား | ၆၅ ဧက | ၁၂,၄၂၅ ပင် |
| ၂၀၁၀-၂၀၁၁ ခုနှစ်စိုက် ၊ | ၅ နှစ်သား | ၇၅ ဧက | ၁၅,၅၂၀ ပင် |
| ၂၀၀၈-၂၀၀၉ခုနှစ်စိုက် ၊ | ၇ နှစ်သား | ၂၀ ဧက | ၄,၀၀၀ ပင် |
| **စုစုပေါင်း** | | **၂၆၀ ဧက** | **၅၁,၆၂၇ ပင်** |

(၂) **"ရော်ဘာစိုက်ပျိုး လုပ်ကိုင်ခွင့်ရသူ"**အနေဖြင့် အထက်ပါ ထိန်းသိမ်းရော်ဘာ ပင်များကို ပြုစုထိန်းသိမ်းခြင်း၊ အစေးလှီးခြင်း အပါအဝင် ထုတ်လုပ်မှုကုန်ကျ စရိတ်အားလုံးကို ရင်းနှီးမြှုပ်နှံမှုအဖြစ် ထည့်ဝင်မည်။

(၃) အစေးလှီးချိန်ရောက်လျှင် ထွက်ရှိလာသော ရော်ဘာ(မှိုင်းခံရော်ဘာ/ခရမ့် ရော်ဘာ/ Cream)များကိုသဘောတူထားသောအချိုးဖြစ်သည့် **"အမှတ်(၂၇)စက်မှုကုန်ကြမ်း ဌာန"**က ၄၀%နှင့် **"ရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ရသူ"**က ၆၀%ဖြင့် ခွဲဝေခံစား ကြရမည်။

(၄) စာချုပ်သက်တမ်းနှစ်ပြည့်၍ ခုတ်လှဲရန်/ထပ်မံသက်တမ်းတိုး စာချုပ်ရေးထိုးရန် လိုအပ်ပါက အမှတ်( ၂ )အကြီးစားစက်မှုလုပ်ငန်း၊ ဗဟိုလုပ်ငန်းကြီးကြပ်မှု ကော်မတီ၏ခွင့်ပြုချက်ဖြင့် ဆောင်ရွက်ရမည်။

(ဂ) **ပြန်စိုက်လုပ်ငန်း**

(၁) **"အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာန"**မှ မြေ ၁,၁၈၅.၆၁ ဧက ကို ရင်းနှီးမြှုပ်နှံမှုအဖြစ် ထည့်ဝင်ပြီး **"ရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ရသူ"**က စိုက်ပျိုး/ထိန်းသိမ်း/ ထုတ်လုပ် ကုန်ကျစရိတ်အားလုံးကို ရင်းနှီးမြှုပ်နှံမှုအဖြစ်ထည့်ဝင်မည်။

(၂) ပြန်စိုက်လုပ်ငန်းလုပ်ကိုင်မည့် ညောင်ချောင်း ရာဘာခြံတွင် မြေလွတ် ၁,၁၈၅.၆၁ ဧက ဖြစ်ပါသည်။

၇။ အထက်ပါလုပ်ငန်း(၃)မျိုးအရ အကျိုးတူရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ပြုသော ဧရိယာစုစုပေါင်း မှာ ၁,၅၀၅.၆၁ ဧက ဖြစ်ပါသည်။

**အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာန၏ တာဝန်ဝတ္တရားများ**

၈။ **"အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာန"**က အောက်ပါတို့ကို တာဝန်ယူဆောင်ရွက်ရမည် -

(က) အကျိုးတူရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ပြုသော ဧရိယာကို အထက်စာပိုဒ် ၇ ပါအတိုင်း သတ်မှတ်ပေးမည်။

(ခ) အကျိုးတူရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ပြုသော ဧရိယာအတွက် ကျသင့်သည့် မြေခွန်ကို ပေးဆောင်ရမည်။

(ဂ) စာချုပ်သက်တမ်းပြည့်သည့်နေ့တွင် စိုက်ပျိုးမြေဧရိယာနှင့် အကျိုးတူလုပ်ကိုင်ခွင့်ကို ပြန်လည်လက်ခံရယူရန်နှင့် ယင်းမြေပေါ်ရှိရော်ဘာပင်အိုများကို ခုတ်လှဲရှင်းလင်းခအား ရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ရသူမှ ကျခံ၍ ရာဘာပင်အိုစုစုပေါင်း၏ ၃၀ရာခိုင်နှုန်းအား အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာနက ခုတ်ယူပိုင်ဆိုင်၍ ၇၀ ရာခိုင်နှုန်းအား စိုက်ပျိုး လုပ်ကိုင် ခွင့်ရသူသို့ ခုတ်ယူပိုင်ဆိုင်ခွင့်ပြုမည်။

**ရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ရသူ၏ တာဝန်ဝတ္တရားများ**

၉။ ရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ရသူသည် အောက်ပါတို့ကို တာဝန်ယူဆောင်ရွက်ရမည်-

(က) အထက်စာပိုဒ် ၇ ပါ စိုက်ပျိုးမြေဧရိယာများအတွက် လုပ်ငန်းအာမခံကြေး ကျပ် ၅၁၃.၅၈သန်း(ကျပ်ငါးရာတစ်ဆယ့်သုံးသန်းငါးသိန်းရှစ်သောင်းတိတိ)ကိုပေးသွင်းရမည်။ လုပ်ငန်းအာမခံကြေးငွေ၏ ၂၀% ကို စာချုပ်ရေးထိုးပြီး တစ်ပတ်အတွင်း၊ ၅၀%ကို တစ်လအတွင်း၊ ၃၀%ကို နှစ်လအတွင်း အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်းသို့ ပေးသွင်းရမည်။သတ်မှတ်ကာလအတွင်း ပေးသွင်းခြင်းမရှိပါက ရက်သတ္တပတ်နောက်ကျတိုင်း ပေးသွင်းရမည့်တန်ဖိုး၏ တစ်ရာခိုင်နှုန်းကို ငွေသားဖြင့် အမှတ်( ၂ )အကြီးစားစက်မှုလုပ်ငန်းသို့ ပေးသွင်းရမည်။တစ်ပတ်မပြည့်ဘဲ ရက်စွန်းလျှင်လည်း ပေးသွင်းရမည့် တန်ဖိုး၏ တစ်ရာခိုင်နှုန်းကို ငွေသားဖြင့် အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်းသို့ ပေးသွင်းရမည်။

(ခ) စာချုပ်အတည်မဖြစ်သေးမီကာလအတွင်း အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာနပိုင် စိုက်ပျိုးမြေဧရိယာပေါ်တွင် ဝင်ရောက်ကျူးကျော်ခြင်းများ မပြုလုပ်ရ။ ပြုလုပ်ခဲ့ပါက တည်ဆဲဥပဒေများအရ အရေးယူခြင်းခံရမည်။

(ဂ) စိုက်ပျိုးလုပ်ကိုင်ခွင့်ပြုသော မြေဧရိယာပေါ်တွင် နိုင်ငံတော်ပိုင်စီမံကိန်းဝင် ရော်ဘာပင်များကို ခွင့်ပြုချက်မရဘဲ ခုတ်လှဲခဲ့ပါက ၎င်းရော်ဘာပင်များ၏တန်ဖိုးကို အမှတ်(၂) အကြီးစားစက်မှုလုပ်ငန်း ၊ ဗဟိုလုပ်ငန်းကြီးကြပ်မှုကော်မတီက သတ်မှတ်ပေးသည့် ဈေးနှုန်းအတိုင်း ပြန်လည်ပေးလျော်ရမည်။

(ဃ) ရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ပြုသည့်ကာလသည် စာချုပ်လက်မှတ်ရေးထိုးသည့် - -၂၀၁၆ ရက်နေ့မှ - -၂၀၄၁ရက်နေ့အထိဖြစ်ပြီး၊ တစ်နှစ်အတွင်းအပင်ရှင်သန်အောင်စိုက်ပျိုးရမည်။ စိုက်ပျိုးပြီးစီးခြင်းမရှိပါက အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း၊ ဗဟိုလုပ်ငန်းကြီးကြပ်မှုကော်မတီက စီမံခန့်ခွဲဆုံးဖြတ်မှုကိုခံယူလိုက်နာရမည်။

(င) ရော်ဘာမှအပ အခြားနှစ်ရှည်ပင်များ (ဥပမာ-သရက်၊သစ်မွှေး၊သီဟိုဠ်၊ကျွန်း၊ ပျဉ်းကတိုး၊ မဟော်ဂနီစသည်များ)ကို မစိုက်ပျိုးရ။ အခြားနှစ်ရှည်ပင်များကို စိုက်ပျိုးထားကြောင်း စစ်ဆေးတွေ့ရှိပါက အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာန၏ ခုတ်ထွင်ရှင်းလင်းခြင်းကို ခံယူရမည့်အပြင် အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း ၊ ဗဟိုလုပ်ငန်းကြီးကြပ်မှုကော်မတီ၏ စီမံခန့်ခွဲဆုံးဖြတ်မှုကို ခံယူလိုက်နာရမည်။

(စ) ရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ရသော မြေဧရိယာပေါ်တွင် ယာယီခြံစောင့်တဲမှအပ အခြား အဆောက်အအုံများမဆောက်လုပ်ရ။အဆောက်အအုံဆောက်လုပ်ရန်လိုအပ်ပါက အမှတ်(၂) အကြီးစားစက်မှုလုပ်ငန်း၊ ဗဟိုလုပ်ငန်းကြီးကြပ်မှုကော်မတီ၏ ခွင့်ပြုမိန့်ရယူရမည်။

(ဆ) မိမိစိုက်ပျိုးလုပ်ကိုင်ခွင့်ရသောမြေဧရိယာ၏ရှေ့မျက်နှာစာကိုအမှတ်(၂၇)စက်မှုကုန်ကြမ်း ဌာနမှ သတ်မှတ်ထားသည့်ပုံစံအတိုင်း မိမိကုန်ကျစရိတ်ဖြင့် ခြံစည်းရိုးကာရံထားရမည့် အပြင် **"စက်မှုဝန်ကြီးဌာန"**စာတန်းနှင့် ရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ရသည့် ကုမ္ပဏီ / ပုဂ္ဂိုလ်အမည်၊ စိုက်ဧကအရေအတွက် ဖော်ပြထားသည့်စာတန်းပါသော ဆိုင်းဘုတ်ကိုသာ စိုက်ထူရမည်။ ဖော်ပြပါဆိုင်းဘုတ်မှလွဲ၍ အခြားမည်သည့်ဆိုင်းဘုတ်ကိုမျှ စိုက်ထူမထားရ။

(ဇ) စိုက်ပျိုးလုပ်ကိုင်ခွင့်ပြုသော မြေဧရိယာတွင် ရော်ဘာစိုက်ပျိုးလုပ်ကိုင်ခြင်းမှအပ အခြား မည်သည့် စီးပွားရေးလုပ်ငန်းများကိုမျှ လုပ်ကိုင်ခြင်းမပြုရ။

(ဈ) စိုက်ပျိုးလုပ်ကိုင်ခွင့်ပြုသောမြေဧရိယာ၊ ရော်ဘာပင်များနှင့် စိုက်ပျိုးလုပ်ကိုင်ခွင့်ကို ရောင်းချခြင်း၊ ပေါင်နှံခြင်း၊ လွှဲပြောင်းခြင်း၊ အငှားချထားခြင်းများမပြုလုပ်ရ။ စိုက်ပျိုး လုပ်ကိုင်ခြင်းမပြုလိုတော့လျှင် အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာနသို့ ပြန်လည်အပ်နှံရမည်။ ယင်းတားမြစ်ချက်များကို ဖောက်ဖျက်ကျူးလွန်ကြောင်းနှင့် အမှတ်(၂၇)စက်မှုကုန်ကြမ်း ဌာနသို့ ပြန်လည်အပ်နှံရန်ပျက်ကွက်ကြောင်း အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း၊ ဗဟိုလုပ်ငန်းကြီးကြပ်မှုကော်မတီက စစ်ဆေးတွေ့ရှိလျှင် လက်ရှိအနေအထားအတိုင်း **အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာန**၏ သိမ်းယူခြင်းကိုခံယူရမည့်အပြင် ဗဟိုလုပ်ငန်း ကြီးကြပ်မှုကော်မတီ၏ စီမံခန့်ခွဲဆုံးဖြတ်မှုကို ခံယူရမည်။

(ည) အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာနမှ စိုက်ပျိုးလုပ်ကိုင်ခွင့်ပြုသော ဧရိယာနယ်နမိတ်နှင့် ပတ်သက်၍ အငြင်းပွားမှုများပေါ်ပေါက်လာပါက ဗဟိုလုပ်ငန်း ကြီးကြပ်မှုကော်မတီ၏ ဆုံးဖြတ်ချက်သာလျှင် အတည်ဖြစ်သည်။

(ဋ) အစေးလှီးစတင်သည့် နေ့ရက်ကို - -၂၀၁၆ ရက်နေ့ဟု သတ်မှတ်သည်။

(ဌ) ရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ရသူက လအလိုက် စုစုပေါင်းရော်ဘာထွက်ရှိမှု၏ ၅၀ ရာခိုင်နှုန်းကို အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာနသို့ ၁၅ ရက်တစ်ကြိမ်စီနှစ်ကြိမ်ခွဲ၍ လစဉ်မပျက်မကွက် ပေးသွင်းရမည်။ လစဉ်ပေးသွင်းရန်ပျက်ကွက်ပါက ပျက်ကွက်သည့်လမှစ၍ ဤစာချုပ်

ရပ်စဲသည်ဟုမှတ်ယူပြီးစိုက်ပျိုးလုပ်ကိုင်ခွင့်ရသောဧရိယာကိုအမှတ်(၂၇)စက်မှုကုန်ကြမ်း ဌာနက လက်ရှိအနေအထားအတိုင်း ပြန်လည်သိမ်းယူမည်ဖြစ်သည်။

(၃) စိုက်ပျိုးလုပ်ကိုင်ခွင့်ရသည့် မြေဧရိယာနှင့် စပ်လျဉ်း၍ မြေခွန်မှအပ စည်ပင်သာယာခွန် နှင့် အခြားအခွန်အခအမျိုးမျိုးတို့ကို ကျခံပေးဆောင်ရမည်။

**လုပ်ငန်းကြီးကြပ်စီမံခန့်ခွဲခြင်း**

၁၀။ လုပ်ငန်းကြီးကြပ်စီမံခန့်ခွဲခြင်းကို အောက်ပါအတိုင်းဖွဲ့စည်းဆောင်ရွက်သွားမည် -

(က) အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း၊ ဇဟိုလုပ်ငန်းကြီးကြပ်မှုကော်မတီ

| | | |
|---|---|---|
| (၁) | ဦးဆောင်ညွှန်ကြားရေးမှူး | ဥက္ကဋ္ဌ |
| (၂) | အထွေထွေမန်နေဂျာ(စီမံရေး) | ဒုဥက္ကဋ္ဌ |
| (၃) | အထွေထွေမန်နေဂျာ(ရောင်းချဖြန့်ဖြူးရေး) | အဖွဲ့ဝင် |
| (၄) | ရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ရသူဘက်မှ ရွေးချယ်တာဝန်ပေးအပ်သည့်ကိုယ်စားလှယ်များထဲမှ ၂ ဦး | အဖွဲ့ဝင် |
| (၅) | အထွေထွေမန်နေဂျာ [အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာန] | အတွင်းရေးမှူး |

(ခ) **ဇဟိုလုပ်ငန်းကြီးကြပ်မှုကော်မတီ၏ တာဝန်ဝတ္တရားများ**

(၁) ရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ရသူသည်စာချုပ်ပါစည်းကမ်းများအတိုင်း လိုက်နာဆောင်ရွက်ခြင်း ရှိ / မရှိ စစ်ဆေးကြပ်မတ်သွားရမည်။

(၂) ရော်ဘာစိုက်ပျိုးသည့် မျိုး၊ ပျိုးပင်၊ စိုက်နည်းစနစ်၊ ထိန်းသိမ်းလုပ်ငန်းဆောင်ရွက်မှုနည်းစနစ်၊ အစေးလှီးနည်းစနစ် မှန်ကန်မှုရှိ/မရှိ စစ်ဆေးကြပ်မတ်သွားရမည်။

(၃) တစ်ဧကေ ရော်ဘာ အစေးထွက်နှုန်းကို လက်ရှိအခြေအနေအရ ပေါင် ၃၀၀ မှ ပေါင် ၇၀၀ အတွင်း သတ်မှတ်ပေးရမည်။

(၄) ရော်ဘာ အစေးအမှန်ထွက်ရှိမှုကို စစ်ဆေးကြပ်မတ်ပေးရမည်။

(၅) စာချုပ်သက်တမ်းစေ့သည့်နေ့တွင် ရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ရသူက ခံစားခွင့်ရှိသည့် ရော်ဘာပင်အို ၇၀ ရာခိုင်နှုန်းအား အပြီးအပိုင်ခုတ်လှဲယူရမည့်နေ့ကို သတ်မှတ်ပေးရမည်။

၁၁။ **ဒေသန္တရလုပ်ငန်းကြီးကြပ်ရေးအဖွဲ့**

| | | |
|---|---|---|
| (က) | အထွေထွေမန်နေဂျာ | ဥက္ကဋ္ဌ |
| (ခ) | ဒုတိယအထွေထွေမန်နေဂျာ | ဒုဥက္ကဋ္ဌ |
| (ဂ) | လက်ထောက်အထွေထွေမန်နေဂျာ ၂ ဦး | အဖွဲ့ဝင် |
| (ဃ) | ရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ရသူဘက်မှ ရွေးချယ်တာဝန် ပေးအပ်သည့်ကိုယ်စားလှယ်များထဲမှ ၂ ဦး | အဖွဲ့ဝင် |
| (င) | လက်ထောက်အထွေထွေမန်နေဂျာ(စီမံကိန်း) | အတွင်းရေးမှူး |

၁၂။ **ဒေသန္တရလုပ်ငန်းကြီးကြပ်ရေးအဖွဲ့၏ တာဝန်များ**

(က) ဇုန်/ခြံကြီးကြပ်ရေးအဖွဲ့များကို ကြီးကြပ်ရမည်။

(ခ) ဗဟိုလုပ်ငန်းကြီးကြပ်မှုကော်မတီ၏ မူဝါဒလမ်းညွှန်ချက်များအား လက်တွေ့အကောင်အထည်ဖော်ရမည်။

(ဂ) ဇုန်/ခြံများမှ အငြင်းပွားမှုများအား ဖြေရှင်းပေးရမည်။

(ဃ) သတ်မှတ်သည့်အချိုးအလိုက် ခွဲဝေရရှိမှုကို စိစစ်ပေးရမည်။

(င) လစဉ်သုံးသပ်ချက်ကို ထုတ်ပြန်ရမည်။

(စ) ဌာနနှင့်လုပ်ငန်းရှင်များအကြား ထိန်းညှိပေးရမည်။

(ဆ) မူဝါဒ၊သဘောတူညီချက်စာချုပ်များအတိုင်း အကောင်အထည်ဖော်နိုင်အောင် ထိန်းသိမ်းပေးရမည်။

(ဇ) သက်တမ်းပြည့်ခြင်း၊အစေးမထွက်ခြင်းများဖြစ်ပွားလာပါကကွင်းဆင်းစစ်ဆေးအတည်ပြုပြီး ဗဟိုလုပ်ငန်းကြီးကြပ်မှုကော်မတီသို့ တင်ပြရမည်။

၁၃။ **ခြံလုပ်ငန်းကြီးကြပ်ရေးအဖွဲ့**

| | | |
|---|---|---|
| (က) | ရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ရသူ | ဥက္ကဋ္ဌ |
| (ခ) | ခြံမန်နေဂျာ | အဖွဲ့ဝင် |
| (ဂ) | ခြံမှငွေစာရင်းတာဝန်ခံ | အဖွဲ့ဝင် |
| (ဃ) | ရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ရသူ၏ကိုယ်စားလှယ် ၂ ဦး | အဖွဲ့ဝင် |

၁၄။ **ခြံလုပ်ငန်းကြီးကြပ်ရေးအဖွဲ့၏ တာဝန်များ**

(က) အပင်စစ်တမ်းကောက်ယူမှတ်တမ်းတင်ရမည်။

( ခ ) ခြံဧကတိုင်းတာသတ်မှတ်ရမည်။

( ဂ ) အထွက်နှုန်းတိုင်းတာ စစ်ဆေးရမည်။

(ဃ) အချိုးလိုက်ခွဲဝေမှုအား ကြီးကြပ်ရမည်။

( င ) ခြံလုပ်ငန်းများအား စစ်ဆေးရမည်။

( စ ) မသမာမှု၊ခိုးဝှက်မှု၊လေလွင့်မှုများမရှိစေရေး ကြပ်မတ်ရမည်။

(ဆ) ရော်ဘာပင်များ၏ အခြေအနေအား အချိန်နှင့်တစ်ပြေးညီ ဒေသန္တရကြီးကြပ်ရေးအဖွဲ့သို့ သတင်းပို့ရမည်။

( ဇ ) ထူးခြားဖြစ်စဉ်ဖြစ်ပွားပါက အချိန်နှင့်တစ်ပြေးညီသတင်းပို့ရမည်။

(ဈ) ခြံဝန်ထမ်းနှင့်လုပ်ငန်းရှင်ဝန်ထမ်းများ အငြင်းပွားမှုဖြစ်ပွားပါက ကြပ်မတ်ဖြေရှင်းရမည်။

(ည) လစဉ်မှတ်တမ်းသွင်း၍ လက်မှတ်ရေးထိုးထားရှိရမည်။

(ဋ) အပတ်စဉ်၊ လစဉ် ပြန်တမ်းများကို ကြီးကြပ်ရမည်။

(ဌ) စိုက်ကွက်/အစေးလှီးကွက်အလိုက် တာဝန်ခွဲဝေပေးအပ်ရမည်။

(ဍ) အစေးခြောက်ခြင်း၊မထွက်ခြင်းများ ဖြစ်ပွားလာပါက စစ်ဆေးတင်ပြရမည်။

**ထွက်ရှိလာသည့် ထုတ်ကုန်(Product)ခွဲဝေခြင်း**

၁၅။ **"အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာန"**နှင့် **"ရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ရသူတို့"**သည် အောက်ပါအတိုင်း ထွက်ရှိလာသည့်ထုတ်ကုန်(Product)များကို ခွဲဝေခံစားမည်-

(က) အစေးလှီးစတင်သည့်ရက်မှစ၍ လက်ရှိအစေးထုတ်ယူရရှိသည့် ရော်ဘာပင်အရေအတွက် အားလုံးမှထွက်ရှိသော ရော်ဘာများ၏ အစေးလှီးလုပ်ငန်းတွင် ၅၀ ရာခိုင်နှုန်း၊ ထိန်းသိမ်းလုပ်ငန်း တွင် ၄၀ ရာခိုင်နှုန်း၊ ပြန်စိုက်လုပ်ငန်းတွင် ၃၀ ရာခိုင်နှုန်းအား **"အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာန"**မှ ခံစားခွင့်ရှိပြီး ကျန်ရာခိုင်နှုန်းများအား **"ရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ရသူ"**ကခံစားခွင့်ရှိသည်။

(ခ) စာချုပ်သက်တမ်းပြည့်သည့်လုပ်ငန်းသက်တမ်းကုန်ဆုံးသည့် - - ရက်နေ့တွင် အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာနမှ သဘောတူထားသည့်ရာခိုင်နှုန်းအချိုးအလိုက် ရော်ဘာပင်အိုများအား ခုတ်လှဲရယူပိုင်ဆိုင်ခွင့်ရှိသည်။

**စာချုပ်ရုပ်သိမ်းခြင်း**

၁၆။ အောက်ဖော်ပြပါ အချက်တစ်ရပ်ရပ်ပေါ်ပေါက်လျှင်စာချုပ် ရုပ်သိမ်းနိုင်သည်-

(က) ဤစာချုပ်ပါ သက်တမ်းကုန်ဆုံးခြင်း။

(ခ) စာချုပ်ပါစည်းကမ်းချက်တစ်ရပ်ရပ်အား စာချုပ်ဝင်တစ်ဖက်ဖက်က ဖောက်ဖျက်ခြင်း။

(ဂ) နှစ်ဖက်သဘောတူစာချုပ်ရုပ်သိမ်းခြင်း။

၁၇။ စာချုပ်သက်တမ်းမကုန်မီ စာချုပ်အားရုပ်သိမ်းလိုပါက ရုပ်သိမ်းလိုကြောင်း စာချုပ်ဝင်တစ်ဖက်ဖက်မှ အခြားတစ်ဖက်ဖက်သို့ ၆ လကြိုတင်၍ နို့တစ်စာပေးပို့ရမည်။ စက်မှုဝန်ကြီးဌာန၊စီမံခန့်ခွဲရေး ကော်မတီအစည်းအဝေးသို့ တင်ပြအတည်ပြုချက်ရပြီးမှသာ တရားဝင်စာချုပ်ရုပ်သိမ်းခွင့်ရှိပြီး စာချုပ်ရုပ်သိမ်းခွင့် မရသေးမီကာလအထိ ပေးဆောင်ရန်ရှိသော လစာနှင့်စရိတ်များကို ရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ရသူက ပေးဆောင်ရမည်။ စာချုပ်ရုပ်သိမ်းသည့်အချိန်မှစ၍ လုပ်ကိုင်ခွင့်ရသူသည် အကျိုးတူလုပ်ကိုင်နေသည့် စိုက်မြေဧရိယာမှ မိမိ၏ပစ္စည်းနှင့် လူ မချန်ရစ်ဘဲ အသာတကြည် ထွက်ခွာဖယ်ရှားပေးရမည်။

**စာချုပ်ပြန်လည်ညှိနှိုင်းခြင်း**

၁၈။ ဤ စာချုပ်လက်မှတ်ရေးထိုးစဉ်က မမျှော်မှန်းခဲ့သောဖြစ်ရပ်များနှင့် အခြေအနေများပေါ် ပေါက်ပြီး ထိုဖြစ်ရပ် သို့မဟုတ် အခြေအနေများကလည်း စာချုပ်ပါစည်းကမ်းချက်များအား ပြင်ဆင်ရန် သို့မဟုတ်ဖြည့်စွက်ရန် သို့မဟုတ် နုတ်ပယ်ရန်လိုအပ်လာပါလျှင် နှစ်ဦးနှစ်ဖက်သည် ထိုသို့သောပြင်ဆင် ပြောင်းလဲမှုများ ပြုလုပ်ရန်ပြန်လည်ညှိနှိုင်းကြရမည်။ စာဖြင့်အပြန်အလှန် သဘောတူညီချက်မရဘဲ နှစ်ဦးနှစ်ဖက်သည် ဤစာချုပ်ပါစည်းကမ်းချက်များကို ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်းသို့မဟုတ် နုတ်ပယ်ခြင်းတို့ကို မပြုလုပ်ရ။ စာချုပ်ဝင်များက နှစ်ဦးနှစ်ဖက်စာဖြင့်ရေးသားကြ၍ လက်မှတ် ရေးထိုး သဘောတူညီပြင်ဆင်ပါက ယင်းပြင်ဆင်ချက်သည် ဤစာချုပ်၏ အစိတ်အပိုင်းတစ်ရပ်ဖြစ်လာ စေရမည်။

**အရေးယူခြင်း**

၁၉။ (က) ဤစာချုပ် ပါ သတ်မှတ်ချက်များ၊ စည်းကမ်းချက်များနှင့် တာဝန်ဝတ္တရားများကို ဆောင်ရွက်ရန် ပျက်ကွက်ခြင်း၊ တစ်ဦးဦး၏မသမာမှုကြောင့်လုပ်ငန်းနစ်နာဆုံးရှုံးမှု ဖြစ်ခြင်း၊ စိုက်ပျိုးလုပ်ကိုင် နေစဉ်ကာလအတွင်း မလွန်ဆန်နိုင်သော သဘာဝဘေး အန္တရာယ်ကြောင့်လုပ်ငန်းပျက်စီးဆုံးရှုံးမှုအခြေအနေနှင့် တန်ဖိုးသတ်မှတ်ခြင်း၊ အငြင်းပွားမှု ပေါ်ပေါက်ခြင်းတို့ကို ဗဟိုလုပ်ငန်းကြီးကြပ်မှုကော်မတီကစစ်ဆေးခြင်း၊ အရေးယူခြင်း၊ စီမံခန့်ခွဲခြင်း၊ ဆုံးဖြတ်ခြင်းပြုရမည်။

(ခ) ဗဟိုလုပ်ငန်းကြီးကြပ်မှုကော်မတီ၏ ဆုံးဖြတ်ချက်သည် အပြီးအပြတ်နှင့် အတည်ဖြစ်သည်။

**အငြင်းပွားမှုဖြေရှင်းခြင်း**

၂၀။ ဤစာချုပ်နှင့်စပ်လျဥ်း၍အငြင်းပွားမှုတစ်စုံတစ်ရာ ပေါ်ပေါက်လာပါက အောက်ပါအတိုင်း ဖြေရှင်း ဆောင်ရွက်ကြမည်-

(က) စာချုပ်ဝင်နှစ်ဦးနှစ်ဖက် ညှိနှိုင်းစေ့စပ်ဆွေးနွေးခြင်းနည်းလမ်းဖြင့် ဖြေရှင်းရမည်။

(ခ) ထိုသို့ စေ့စပ်ဆွေးနွေးဖြေရှင်းနိုင်ခြင်းမရှိပါက ဥပဒေနှင့်အညီ သက်ဆိုင်ရာစီရင်ပိုင်ခွင့်ရှိသော တရားရုံး၏ဆုံးဖြတ်မှုကို ခံယူရမည်။

**သယံဇာတပစ္စည်းတွေ့ရှိခြင်း**

၂၁။ ဤစာချုပ် ၏သက်တမ်းအတွင်း ယခုလုပ်ငန်းဆောင်ရွက်သည့် မြေ၏မြေပေါ်မြေအောက်မှ မမျှော်လင့်ဘဲ ဓာတ်သတ္တုအရင်းအမြစ်များ၊ ရေနံဓာတုဆိုင်ရာပစ္စည်းများ၊ သဘာဝသယံဇာတပစ္စည်းများ၊ ရှေးဟောင်းပစ္စည်းများ၊ ကျောက်မျက်ရတနာများအစရှိသည်တို့ကိုတွေ့ရှိလျှင် **"အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာန"**သို့အမြန်ဆုံးကြောင်းကြားရမည်။**"အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာန"က** ထိုပစ္စည်းများကို ပိုင်ဆိုင်ပြီးနိုင်ငံတော်အစိုးရအဖွဲ့အစည်းသို့လွှဲပြောင်းတင်ပြရမည်။**"အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာန"**က အဆိုပါသယံဇာတပစ္စည်းများကို မည်သည့်အချိန်တွင်မဆို လွတ်လပ်စွာတူးဖော်ပိုင်ခွင့်ရှိစေရမည်။

**မလွန်ဆန်နိုင်သော ဖြစ်ရပ်များ**

၂၂။ မလွန်ဆန်နိုင်သောဖြစ်ရပ်များဆိုသည်မှာ တစ်ဖက်ဖက်က သင့်လျော်သောသတိဝီရိယထားရှိပါလျက် မလွန်ဆန်နိုင်သည့် အစိုးရ၏တားဆီးမှု၊ သပိတ်မှောက်မှု၊ စစ်မက်ဖြစ်ပွားမှု၊ပိတ်ဆို့တားဆီးမှု၊ သူပုန်ထမှု၊ အဓိကရုဏ်းဖြစ်ပွားမှု၊ ကူးစက်ရောဂါပြန့်ပွားမှု၊ မီးလောင်မှု၊ ရေကြီးမှု၊ လေမုန်တိုင်းကျမှု စသည်တို့နှင့် အလားတူဖြစ်ရပ်များကိုဆိုလိုသည်။

၂၃။ မလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့် စာချုပ်ဝင်တစ်ဖက်ဖက်သည် မိမိတာဝန်ဝတ္တရားများကို ဆောင်ရွက်ရန်ပျက်ကွက်ခြင်း၊ နှောင့်နှေးခြင်းများရှိသဖြင့် ထိုစာချုပ်တွင်ထိခိုက်နစ်နာမှုများ ပေါ်ပေါက်လျှင် ထိုထိခိုက်နစ်နာမှုသည် အခြားတစ်ဖက်အပေါ်တွင် တာဝန်မကျရောက်စေရ။

၂၄။ မလွန်ဆန်နိုင်သော ဖြစ်ရပ်များဖြစ်ပွားသည့်နေ့မှ ၇ ရက်အတွင်း ယင်းဖြစ်ရပ်ကြောင့် ထိခိုက်ခံရသူသည် ဖြစ်ပွားမှုအခြေအနေအသေးစိတ်ကို စာဖြင့်ဖော်ပြ၍ တစ်ဖက်သို့အကြောင်းကြားရမည်။ ထိုဖြစ်ရပ် ဖြစ်ပွားမှုကာလအတွင်း ဖြစ်ပေါ်မှုအခြေအနေ ၊ မိမိ၏ဆောင်ရွက်ချက်များကိုလည်း

အကြောင်းကြားရမည်။ အဆိုပါဖြစ်ရပ်ကြောင့် ထိခိုက်နစ်နာသူ၏ တာဝန်များကို တစ်ဖက်သူ၏ သဘောတူညီချက်အရ ထိုဖြစ်ရပ်ဖြစ်ပေါ်နေသည့် ကာလအတွင်း ဆိုင်းငံ့စေရမည်။

၂၅။ သို့ရာတွင် ထိုဆိုင်းငံ့ကာလသည် လိုအပ်သည်ထက် ပိုမိုမကြန့်ကြာစေဘဲ ထိုဖြစ်ရပ်ကိုလည်း တတ်နိုင်သမျှ အမြန်ဆုံးဖယ်ရှားရန် ကြိုးပမ်းရမည်။ထိုကဲ့သို့မလွန်ဆန်နိုင်သောဖြစ်ရပ်ကို ဖယ်ရှားပြီးသည်နှင့် ထိုဖြစ်ရပ်ကြောင့် ထိခိုက်ခံစားရသူက စာချုပ်ပါ မိမိဆောင်ရွက်သင့်သည်ကို အမြန်ဆုံးနှင့်အထိရောက်ဆုံးဆောင်ရွက်ရမည်။

**နောက်ဆက်တွဲများ**

၂၆။ လုပ်ငန်းလုပ်ကိုင်ခြင်း၊ ငွေပေးသွင်းခြင်း၊ ရရှိသည့်အကျိုးအမြတ်များ စာရင်းရှင်းလင်းခွဲဝေခြင်း၊ ဆုံးဖြတ်ချက်ချမှတ်ခြင်း၊ နောက်ဆက်တွဲ စာချုပ်ရေးထိုးခြင်းအတွက် ပြုလုပ်သည့် မှတ်တမ်းများ၊ စာအုပ်များ၊ စာရင်းရှင်းတမ်းများ၊ ပြေစာများ၊ ဘောက်ချာများ၊ ပူးတွဲဖော်ပြထားသည့် မြေပုံမြေရာဇဝင်များ၊ စာချုပ်စာတမ်းများတို့သည် ဤစာချုပ်၏ နောက်ဆက်တွဲအစိတ်အပိုင်းဖြစ်သည်ဟု မှတ်ယူရမည်။

**စာချုပ် အတည်ဖြစ်ခြင်း၊ စာချုပ် ပျက်ပြယ်ခြင်း**

၂၇။ အောက်ပါအချက်များသည် စာချုပ် အတည်ဖြစ်ခြင်း စာချုပ် ပျက်ပြယ်ခြင်းနှင့် အကျုံးဝင်သည်-

(က) လုပ်ငန်းအာမခံငွေများကို **"အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာန"**သို့ သတ်မှတ်ရက်အတွင်း ပေးသွင်း ပြီးမှသာ ဤစာချုပ် အတည်ဖြစ်သည်။

(ခ) **"ရော်ဘာအကျိုးတူစိုက်ပျိုးလုပ်ကိုင်ခွင့်ရသူ"**က **"အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာန"**သို့ သတ်မှတ်ထားသည့်အတိုင်း လစဉ်ပေးသွင်းရမည့်ရော်ဘာများပေးသွင်းရန် ပျက်ကွက်ပါက ပျက်ကွက်သည့်လမှစ၍ ဤစာချုပ် ပျက်ပြယ်သည်ဟု မှတ်ယူရမည်။

**လုပ်ငန်းအာမခံငွေပြန်လည်ထုတ်ပေးခြင်း**

၂၈။ အကျိုးတူစိုက်ပျိုးလုပ်ကိုင်ခွင့်ရသူက သတ်မှတ်ထားသော စည်းကမ်းချက်များကို လိုက်နာပါက လုပ်ငန်းအာမခံကြေးကို အောက်ပါအတိုင်း အရစ်ကျပြန်လည်ထုတ်ပေးမည်-

(က) အစေးလှီးလုပ်ငန်းဆောင်ရွက်ခွင့်ရရှိသည့် ဘဏ္ဍာရေးနှစ်အတွက် လုပ်ငန်းအာမခံကြေး၏ တစ်ဝက် ကျပ် ဝ.၇၂ သန်းအား ၎င်းဘဏ္ဍာနှစ်ဒီဇင်ဘာလ နောက်ဆုံးအပတ်တွင် ပြန်လည်ထုတ်ပေးရမည်။

(ခ) အစေးလိုးလုပ်ငန်းအတွက် ဒုတိယ ဘဏ္ဍာရေးနှစ်မှစ၍ လုပ်ငန်းအာမခံကြေး၏ တစ်ဝက်ကို နှစ်စဉ် နိုဝင်ဘာနောက်ဆုံးအပတ်တွင်တစ်ကြိမ်၊ လုပ်ငန်းအာမခံကြေး၏ တစ်ဝက်အား ၎င်းဘဏ္ဍာနှစ် မတ်လ နောက်ဆုံးအပတ်တွင် တစ်ကြိမ်နှင့် နောက်နှစ်အတွက် အာမခံကို မတ်လနောက်ဆုံးအပတ်တွင် ပြန်လည်ပေးသွင်းရမည်။

(ဂ) ထိန်းသိမ်းလုပ်ငန်းအတွက် တင်သွင်းထားသည့် လုပ်ငန်းအာမခံကြေး၏ သုံးပုံတစ်ပုံဖြစ်သော ငွေကျပ်၅၅.၃၆သန်းအားစတင်အစေးလိုးချိန်တွင် ပြန်လည်ထုတ်ပေးရမည်။

(ဃ) ထိန်းသိမ်းပင်များကို စိုက်ပျိုးသည့်ခုနှစ်မတူပါက အစေးလိုးသည့်ဧရိယာ စိုက်ကွက်ပေါ်မူတည်၍ သုံးပုံတစ်ပုံအား စတင်အစေးလိုးချိန်ရောက်တိုင်းပြန်လည်ထုတ်ပေးရမည်။

(င) လုပ်ငန်းအာမခံကြေး၏ ကျန်သုံးပုံတစ်ပုံအား စာချုပ်သက်တမ်းတစ်ဝက်တွင် ပြန်လည်ထုတ်ပေးရမည်။

(စ) လုပ်ငန်းအာမခံကြေး ကျန်သုံးပုံတစ်ပုံအားစာချုပ် ဖျက်သိမ်းသည့်အချိန်တွင် ပြန်လည်ထုတ်ပေးရမည်။

(ဆ) ပြန်စိုက်လုပ်ငန်းအတွက် တင်သွင်းထားသည့်လုပ်ငန်းအာမခံကြေး၏ သုံးပုံတစ်ပုံဖြစ်သော ငွေကျပ် ၁၂၉.၄ သန်းအား စိုက်ပျိုးရမည့် ဧရိယာအားလုံး စိုက်ပျိုးပြီးချိန်တွင် ပြန်လည်ထုတ်ပေးရမည်။

(ဇ) လုပ်ငန်းအာမခံကြေး ကျန်သုံးပုံတစ်ပုံအား စတင်အစေးလိုးချိန်တွင် ပြန်လည်ထုတ်ပေးရမည်။

(ဈ) လုပ်ငန်းအာမခံကြေး ကျန်ငွေ၏သုံးပုံတစ်ပုံအား စာချုပ်ဖျက်သိမ်းသည့်အချိန်တွင်ပြန်လည်ထုတ်ပေးရမည်။

၂၉။ ဌာနနှင့်ဆောင်ရွက်ရာတွင် လုပ်ငန်းခိုင်မာရေးနှင့် မြေများမပျက်စီးမဆုံးရှုံးစေရေးအတွက် လုပ်ငန်းအာမခံကြေးငွေမဟုတ်ပါက လုပ်ငန်းအာမခံကြေးငွေနှင့်ညီမျှသောအာမခံပစ္စည်း (သို့မဟုတ်) ခိုင်မာသောစာချုပ်စာတမ်း/ဂရန် စသည်တို့ကို အာမခံအဖြစ်ထားရှိရမည်။

၃၀။ ၎င်းအာမခံပစ္စည်းကို စာချုပ်ဝင်နှစ်ဦးနှစ်ဖက်လုံး၏ သဘောတူညီမှုဖြင့် မြန်မာ့စီးပွားရေးဘဏ်တွင် အပ်နှံထားမည်။

၃၁။ လုပ်ငန်းအာမခံသည် အာမခံပစ္စည်း/စာချုပ်စာတမ်းဖြစ်ပါက အရစ်ကျပြန်လည်ပေးအပ်နိုင်မည့် အချက်အလက်များကို ပြန်လည်ညှိနှိုင်းဆောင်ရွက်မည်။

၃၂။ ပြန်စိုက်လုပ်ငန်းများဆောင်ရွက်ရာတွင် အောက်ပါအချက်များအတိုင်း လုပ်ဆောင်ရမည်-

(က) စိုက်ပျိုးသည့်မျိုးသည် ၁ဧကပေါင် ၁,၂၀၀ အထက် ထွက်ရှိသော မျိုးကောင်းမျိုးသန့် ဖြစ်ရမည်။ PB-260,PB-235,BPM-24,RRIM-2025 မျိုးများကို အမှတ်( ၂၇ ) စက်မှုကုန်ကြမ်းဌာနတွင် ရယူနိုင်သည်။

( ခ ) ၁ ဧကပင်ဆုံအပင်ကို ၁ ဧကလျှင် အနည်းဆုံးအပင် ၂၀၀ ရရှိအောင် စိုက်ပျိုးရမည်။ (ဥပမာ- ပင်ခြား တန်းခြား ၂၀' x ၁၀' = ၂၁၇ ပင်)

(ဂ) တောခုတ်ခြင်း၊ ဖိုင်ပေလိုင်းဆွဲခြင်း၊ အစိုဓာတ်ထိန်းသိမ်းခြင်း၊ အပင်ပြုပြင်ခြင်း၊ မီးတားလမ်းပြုလုပ်ခြင်းများအား ရာသီအလိုက်ဆောင်ရွက်သွားမည်။ မျိုးကောင်းမျိုးသန့် ပျိုးပင်နှင့်စိုက်ပျိုးရေးနည်းစနစ်များကို **"အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာန"**မှ ပံ့ပိုး ကူညီပေးနိုင်ပါသည်။

၃၃။ ခြံအလိုက်စိုက်ကွင်းအလိုက်ပြန်စိုက်လုပ်ငန်းများ ဆောင်ရွက်ပြီးအစေးထွက်ချိန် ၇ နှစ်ခန့်တွင် ထွက်ရှိလာ သော ရော်ဘာကို သတ်မှတ်ထားသောအချိုးဖြင့် ခွဲဝေပါမည်။

၃၄။ **"အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာန"**က ထုတ်လုပ်မှုစရိတ်ကျခံမည်မဟုတ်ဘဲ အသားတင်ရယူ မည်ဖြစ်သည်။

၃၅။ ခြံလုပ်ငန်းများ လုပ်ဆောင်ရာတွင် အောက်ပါအတိုင်း ဆောင်ရွက်ရမည်-

(က) လုပ်ငန်းမစတင်မီနှစ်ဦးနှစ်ဖက်ပူးပေါင်း၍အဖွဲ့ဖြင့် အပင်စစ်တမ်းကိုနှစ်စဉ် ကောက်ယူ မှတ်တမ်းတင်မည်။

( ခ ) အပင်ဖာထေးစိုက်ပျိုးရန်လိုအပ်ပါက နှစ်စဉ်ဖွန်လကုန်နောက်ဆုံးပတ်တွင် ပြီးပြတ်အောင် ဆောင်ရွက်ရမည်။

(ဂ ) အပင်ဖာထေးစိုက်ပျိုးမှုကို စိုက်ပျိုးလုပ်ကိုင်ခွင့်ရသူမှ ကုန်ကျစရိတ်အားလုံး ကျခံ စိုက်ပျိုးရမည်။

(ဃ ) အစိုဓာတ်ထိန်းခြင်း၊ မီးတားလမ်းပြုလုပ်ခြင်း၊ အပင်ပြုစုခြင်းစသော ထိန်းသိမ်း လုပ်ငန်းစဉ်ကို အချိန်နှင့် တစ်ပြေးညီသတိပြုဆောင်ရွက်ရမည်။

မှတ်ချက်။ နည်းစနစ်ပိုင်းဆိုင်ရာကို အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာနမှ ကူညီပံ့ပိုးပေး နိုင်ပါသည်။

၃၆။ အစေးလှီးလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း ဆောင်ရွက်ရမည်-

(က) လုပ်ငန်းစတင်ချိန်တွင် နှစ်စဉ် အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာနနှင့် ရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ရသူတို့ ပူးပေါင်း၍ အပင်စစ်တမ်းကောက်ယူမှတ်တမ်းတင်မည်။

(ခ) တောခုတ်ခြင်းလုပ်ငန်းကို အစေးလှီးလုပ်ငန်းမစတင်မီ အပြီးဆောင်ရွက်ရမည်။

(ဂ) အပင်နှင့်မြေသားကိုပျက်စီးစေမည့်မြေသြဇာ၊ ဓာတုဆေးများနှင့် တားမြစ်ထားသော ဆေးဝါးများ အသုံးမပြုရ။

(ဃ) အစေးလှီးပင်အားလုံးကို အစေးလှီးနိုင်ရေး စီမံဆောင်ရွက်ရမည်။

(င) **"အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာန"**သို့ ပေးသွင်းရမည့် ရော်ဘာအရည်အသွေးများမှာ RSS(1) ၅၀% , RSS(2) ၃၀% , RSS(3) ၂၀% တို့ဖြစ်ပါသည်။

(စ) **"အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာန"**သို့ ပေးသွင်းရမည့် ရော်ဘာအချိုးအစားကို ၁၅ရက် တစ်ကြိမ်ပေးသွင်းရမည်။

**အထွေထွေ**

၃၇။ လုပ်ငန်းဆောင်ရွက်ခွင့်ရရှိပြီးပါက တစ်ခြံချင်းအလိုက် ခြံလုပ်ငန်းကြီးကြပ်ရေးအဖွဲ့များကို အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာနမှကိုယ်စားလှယ် ၂ ဦးနှင့်ရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ရသူ၏ ကိုယ်စားလှယ် ၃ ဦးဖြင့် ဖွဲ့စည်းထားရှိမည်။

၃၈။ အကြောင်းကြောင်းကြောင့် ရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်(အစေးလှီး/ ထိန်းသိမ်း/ပြန်စိုက်) တို့ကို ဆက်လက်ဆောင်ရွက်လိုခြင်းမရှိပါက အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာနသို့ပြန်လည် အပ်နှံရမည်၊ တဆင့်ခံလွှဲပြောင်းခြင်း၊ရောင်းချခြင်းမပြုလုပ်ရ။

၃၉။ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း၊ ဗဟိုလုပ်ငန်းကြီးကြပ်မှုကော်မတီက လုပ်ငန်းရပ်စဲရန် ဆုံးဖြတ်လျှင်လုပ်ငန်း ရပ်စဲပြီးဖြစ်သည်။

၄၀။ ရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ရရှိထားသောညောင်ချောင်းရော်ဘာခြံ၏ ဝန်ထမ်း ၁၈ ဦးအတွက် လစာငွေတစ်နှစ် ကျပ် ၃၆.၂၇၆ သန်းအား ရော်ဘာအကျိုးတူစိုက်ပျိုးလုပ်ကိုင်ခွင့်ရရှိသူမှကျခံရမည်။ ညောင်ချောင်းရော်ဘာခြံ၏ ဝန်ထမ်းအရေအတွက်နှင့်ဝန်ထမ်းရေးရာကိစ္စရပ်များကို နောက်ဆက်တွဲ ဖြင့်ဖော်ပြအပ်ပါသည်။

၄၁။ ညောင်ချောင်းရော်ဘာခြံ၏ထုတ်လုပ်မှုစီမံခန့်ခွဲမှုအား ရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့် ရရှိသူမှ ဦးစီးဆောင်ရွက်မည်။

၄၂။ အထက်ဌာနများ၏ ညွှန်ကြားချက်များအရ အခါအားလျော်စွာ ထုတ်ပြန်သည့်ဌာန၏ စည်းကမ်းချက်များအား လိုက်နာဆောင်ရွက်ရမည်။

၄၃။ **နိုင်ငံတော်မှချမှတ်ထားသော တည်ဆဲဥပဒေများအတိုင်းလိုက်နာဆောင်ရွက်မည်။**

၄၄။ ဤစာချုပ်ပါအချက်အလက်များ၊ စည်းကမ်းချက်များနှင့်တာဝန်ဝတ္တရားများကို နှစ်ဦးနှစ်ဖက်က သိရှိနားလည်သဘောတူညီကြောင်း တစ်ဖက်စာမျက်နှာ(၁၈)ပါ အသိသက်သေများရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

၄၅။ နိုင်ငံတော်စီမံကိန်းအရသော်လည်းကောင်း၊ ဒေသအာဏာပိုင်များ၏ စီမံကိန်းအရသော်လည်းကောင်း၊ ကျောက်မျက်ရတနာ ... ရော်ဘာအကျိုးတူစိုက်ပျိုးလုပ်ကိုင်လျက်ရှိသည့် မြေဧရိယာများအား လွှဲပြောင်းပေးရန်လိုအပ်ပါက ဧရိယာအတွင်း ဆောင်ရွက်လျက်ရှိသော လုပ်ငန်းများကို ရပ်ဆိုင်း၍ လွှဲပြောင်းယူမည့်အဖွဲ့အစည်းသို့ ပေးအပ်ရမည်ဖြစ်ပြီး **"ရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ရသူ"**အား ရင်းနှီးမြှုပ်နှံထားသောတန်ဖိုးကို လွှဲပြောင်းယူမည့်အဖွဲ့အစည်းက ပြန်လည်ထုတ်ပေးရမည်။

**အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာန(ကိုယ်စား)** **ရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ရသူ**

ဦးခင်မောင်မြင့်
ခေတ္တအထွေထွေမန်နေဂျာ
အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာန(ကျိုက်ထို)
အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း

ဒေါ်နန်းခင်မြင့်ရီ
၁၃/ကမရ(နိုင်) ဝ၀၁၀၈၃
Jade King & Queen Gems &Jewellery Co.,Ltd.

## အသိသက်သေများ

၁။ ဦးဌေးဝင်းအောင် ၁။

အထွေထွေမန်နေဂျာ(စီမံရေး)

အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း

၂။ ဒေါ်မာမာထွန်း ၂။

အထွေထွေမန်နေဂျာ(ဘဏ္ဍာရေး)

အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း

## ထပ်ဆင့်အတည်ပြုသူ

ဦးဆောင်ညွှန်ကြားရေးမှူး

အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း

စက်မှုဝန်ကြီးဌာန

နောက်ဆက်တွဲ

ညောင်ချောင်းရော်ဘာခြံ၏ ဝန်ထမ်းအင်အားစာရင်း

၁။ ညောင်ချောင်းရော်ဘာခြံ၏ ဝန်ထမ်းအင်အားမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | လစာနှုန်း | ဦးရေ |
|---|---|---|
| (က) | ၁၉၅၀၀၀-၂၀၀၀-၂၀၅၀၀၀ | ၃ |
| (ခ) | ၁၈၀၀၀၀-၂၀၀၀-၁၉၀၀၀၀ | ၄ |
| (ဂ) | ၁၆၅၀၀၀-၂၀၀၀-၁၇၅၀၀၀ | ၄ |
| (ဃ) | ၁၅၀၀၀၀-၂၀၀၀-၁၆၀၀၀၀ | ၆ |
| (င) | နေ့စား | ၁ |
| | ဝန်ထမ်းစုစုပေါင်း | ၁၈ |

ဝန်ထမ်းရေးရာကိစ္စရပ်များ

၂။ ပြင်ပဝန်ထမ်းစည်းကမ်းချက်ဖြင့်လွှဲပြောင်းပေးမည့်ဝန်ထမ်းများနှင့်ပတ်သက်၍ **"ရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ရသူ"**မှ အောက်ပါ စည်းကမ်းချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရမည်-

(က) ညောင်ချောင်းရော်ဘာခြံရှိ ပြင်ပဝန်ထမ်းစည်းကမ်းချက်ဖြင့် လွှဲပြောင်းပေးမည့်ဝန်ထမ်းများ၏ ဝန်ထမ်းလစာနှင့်ထောက်ပံ့ကြေးများကို စာချုပ်ရေးထိုးပြီးသည့် အချိန်မှစ၍ လစဉ်လစာ ထုတ်ရက်တွင် ထုတ်ပေးရမည်။

(ခ) အကြောင်းတစ်စုံတစ်ရာကြောင့် နိုင်ငံတော်မှ လစာနှုန်းထားများပြောင်းလဲခဲ့လျှင် ပြောင်းလဲသည့် နှုန်းထားအတိုင်း ထုတ်ပေးရမည်။

(ဂ) အခါအားလျော်စွာ ရာထူးတိုးမြှင့်ခြင်း၊ နှစ်တိုးတိုးမြှင့်ခြင်းခံရသော ဝန်ထမ်းများအတွက် တိုးမြှင့်လစာနှင့် နှစ်တိုးကို ခံစားခွင့်ပြုရမည်။

(ဃ) **"ရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ရသူ"**သည် လက်ရှိတာဝန်ထမ်းဆောင်နေသော ဝန်ထမ်းများအား ဆက်လက်တာဝန်ပေးခန့်အပ်ရမည်။

(င) ဝန်ထမ်းများ၏ လစာ၊နစ်တိုး၊စရိတ်နှင့်ထောက်ပံ့ကြေးများအား နိုင်ငံတော်၏ခွင့်ပြုနှုန်းထားများအတိုင်း **"ရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ရသူ"**မှ ဆက်လက်ပေးဆောင်ရမည်။ မူရင်းလစာအား နိုင်ငံတော်သတ်မှတ်နှုန်းထားထက်ပို၍မပေးရ။ နိုင်ငံတော်မှအခါအားလျော်စွာ ဝန်ထမ်းများအတွက် ထောက်ပံ့ချီးမြှင့်ရန် သတ်မှတ်ထားသော ထောက်ပံ့ကြေးကို **"ရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ရသူ"**မှ တာဝန်ယူ၍ ဝန်ထမ်းများသို့ ထောက်ပံ့ချီးမြှင့်ပေးရမည်။

(စ) ညောင်ချောင်းရော်ဘာခြံဝန်ထမ်းအား အကျိုးတူဆောင်ရွက်သည့်ရော်ဘာခြံနှင့် ပတ်သက်သည့် လုပ်ငန်းတာဝန်ကိုသာ ပေးအပ်ရမည်။ အခြားလုပ်ငန်းတာဝန်များ ပေးအပ်လိုပါက စက်မှုဝန်ကြီးဌာနသို့ တင်ပြ၍ အတည်ပြုချက်ယူရမည်။

(ဆ) ဝန်ထမ်းများ၏ လူမှုဖူလုံရေးလစဉ်ထည့်ဝင်ကြေးကို **"ရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ရသူ"** မှ ဝန်ထမ်းလစာ၏ ၃ % ကျခံပေးသွင်းရမည်။

(ဇ) ဝန်ထမ်းများ၏ လူမှုဖူလုံရေးအကျိုးခံစားခွင့်ရရှိရေးအတွက် **"ရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ရသူ"** မှ တာဝန်ယူရမည်။

(ဈ) ဝန်ထမ်းများ၏ ပင်စင်ထည့်ဝင်ကြေးကို **"ရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ရသူ"** မှ တာဝန်ယူရမည်။

(ည) ဝန်ထမ်းများ၏ သက်သာချောင်ချိရေးကိစ္စများကို **"ရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ရသူ"** မှ တာဝန်ယူရမည်။

(ဋ) ဝန်ထမ်းများလုပ်ငန်းခွင်တွင် မတော်တဆထိခိုက်မှုဖြစ်ပွားပါက **"ရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ရသူ"** မှ တာဝန်ယူဆောင်ရွက်ပေးရမည်။

(ဌ) ညောင်ချောင်းရော်ဘာခြံလွှဲပြောင်းသည့်အခါ ပါရှိသောဝန်ထမ်းများအနက် ရာထူးမှနုတ်ထွက်လိုခြင်း၊နစ်ပြည့်(သို့မဟုတ်)သက်ပြည့်အငြိမ်းစားယူခြင်းများရှိပါက **"အမှတ်(၂၇) စက်မှုကုန်ကြမ်းဌာန"** ထံ တင်ပြဆောင်ရွက်ရမည်။

(ဍ) လွှဲပြောင်းပေးသည့်ဝန်ထမ်းများကို ဝန်ထမ်းဆိုင်ရာပြစ်မှု၊ တာဝန်ပျက်ကွက်မှုနှင့် အခြား အကြောင်းအချက်များကြောင့် ဝန်ထမ်းစည်းမျဉ်းစည်းကမ်းများအရ အရေးယူရန်လို အပ်ပါက **"အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာန"** နှင့် **"ရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ရသူ"** တို့ ပါဝင်သည့် စုံစမ်းစစ်ဆေးရေးအဖွဲ့ဖြင့်ဖွဲ့စည်းပြီး လုပ်ငန်းဌာနအကြီးအကဲနှင့် ဝန်ကြီး ဌာနတို့၏ အတည်ပြုချက်အရဆောင်ရွက်ရမည်။

(ဎ) လွှဲပြောင်းပေးမည့်ဝန်ထမ်း(အရာထမ်း/အမှုထမ်း)များမှ ဝန်ကြီးဌာနနှင့် လုပ်ငန်း(ရုံးချုပ်) ၏ လိုအပ်ချက်ရှိလာပါက **" အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာန "** မှ **"ရော်ဘာစိုက်ပျိုး လုပ်ကိုင်ခွင့်ရသူ"** နှင့် အခြားစက်ရုံ၊ ဌာနတစ်ခုခုသို့ ပြောင်းရွှေ့တာဝန်ပေးအပ်နိုင်ပြီး ၎င်းဝန်ထမ်း၏နေရာအတွက်ဖြည့်တင်းပေးလိုက **"အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာန"**မှ အစားထိုးဖြည့်တင်းနိုင်သည်။

(ဏ) လွှဲပြောင်းပေးပြီးသည့်ဝန်ထမ်းများ၏ ခွင့်ခံစားချက်နှင့်ပတ်သက်၍ နိုင်ငံ့ဝန်ထမ်းဥပဒေ အခန်း(၆)၊ အပိုဒ် (၁၄) ပါ ခွင့်အမျိုးအစားများကို သတ်မှတ်စည်းကမ်းချက်များနှင့်အညီ **"ရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ရသူ"** မှ ခွင့်ပြုပေးရမည်ဖြစ်ပြီး **"ခွင့်နှင့်စပ်လျဉ်းသည့် ကိစ္စရပ်များ"**ကို နိုင်ငံ့ဝန်ထမ်းဥပဒေ အပိုဒ်(၁၅) မှ (၂၂) ပါအတိုင်း **"ရော်ဘာစိုက်ပျိုး လုပ်ကိုင်ခွင့်ရသူ"** မှ တာဝန်ယူစီမံခန့်ခွဲကြီးကြပ်ရမည်။

(တ) ဝန်ထမ်းဆိုင်ရာအကျိုးခံစားခွင့်၊ ငွေကြေး၊ အခွင့်အရေးဆိုင်ရာများတွင် လွှဲပြောင်း ပေးသည့်ဝန်ထမ်းများမှ တောင်းဆိုတင်ပြလာမှုများရှိပါက **"အမှတ်(၂၇)စက်မှုကုန်ကြမ်း ဌာန"** နှင့် **"ရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ရသူ"**တို့မှ ညှိနှိုင်း၍ဖြေရှင်းဆောင်ရွက်ပေးရမည်။

(ထ) ညောင်ချောင်းရော်ဘာခြံရှိလွှဲပြောင်းပေးမည့်ဝန်ထမ်းများသည် **"ပြင်ပဝန်ထမ်းစည်းကမ်း ချက်များ"** နှင့်အညီ လိုက်နာသွားရမည်ဖြစ်ပါသည်။ အထက်ပါ အချက်များပါဝင်သည့် ပြင်ပဝန်ထမ်းစည်းကမ်းချက်များကို ပြည်ထောင်စုရာထူးဝန်အဖွဲ့သို့ ညှိနှိုင်း၍ လုပ်ငန်းမှ ထုတ်ပြန်ပေးသွားရမည်ဖြစ်ပါသည်။ အဆိုပါစည်းကမ်းချက်များကို **"အမှတ်(၂၇)စက်မှု ကုန်ကြမ်းဌာန"** နှင့် **"လွှဲပြောင်းပေးမည့်ဝန်ထမ်းများ"** မှ လိုက်နာသွားရမည်။

